ကုမ္ပဏီအမည် - **Wilmar Myanmar Flour Mills Limited**

လုပ်ငန်း - ဂျုံပစ္စည်းများနှင့် ဂျုံဆေးထွက် ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၄-၁၀-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန<br>(ခ) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန<br>(ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန<br>(ဃ) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ | <br>၂၆-၁၁-၂၀၁၆<br>၂၆-၁၂-၂၀၁၆<br><br>၂၃-၁၂-၂၀၁၆<br><br>၂၆-၁၂-၂၀၁၆ | <br>၁၂-၁-၂၀၁၇<br>၁၈-၁-၂၀၁၇<br><br>၉-၁-၂၀၁၇<br><br>၂၄-၁-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၀/၂၀၁၆) သို့ တင်ပြခြင်း | ၃၁-၁၀-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၁-၁၁-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | ရန်ကုန်တိုင်းအေးချမ်းသာယာရေးကောင်စီမှမြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့မြေ ၁၅၀၃.၃၃ ဧကအား လယ်ယာမြေအား သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးပြုခွင့်အမိန့်စာအားတင်ပြထားပါသည်။ |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၁၁၃ရက် | | |



D:\Proposal File\Wilmar Myanmar Flour\MIC\Wilma (MIC -Memo).doc

| | |
|---|---|
| ကုမ္ပဏီအမည် | - Wilmar Myanmar Flour Mills Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း |
| တည်နေရာ | - မြေကွက်အမှတ် ၂၀၊ ၂၁နှင့် ၂၁နှင့်ကပ်လျက်မြေကွက်လပ်၊ သီလဝါ ဆိပ်ကမ်းဧရိယာ၊ ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ အတွင်းရှိမြေ ၁၀၀.၁၃၀၈ဧကအနက် မြေ ၇.၄၁၃၁၆၁၄ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၃၁.၄၉၅ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၁၁ နှစ် ၉လ |
| IRR | - ၁၀.၅၅ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၅၂၁ | - |
| ၄ | ဝင်ငွေခွန် | ၂၃၄၀ | ၄၄၇၂ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၃၄၇၁ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၁%) | | ၃၉ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၃၂ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၃၈၆၃.၁၆ | ၇၉၈၃.၁၆၅ |
| ၁၁ | Cost : Benefit | ၁ : ၂ | |

အကြောင်းအရာ။ **Wilmar Myanmar Flour Mills Limited မှဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက် ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့်ရောင်း ချခြင်းလုပ်ငန်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Wilmar Myanmar Flour Mills Limited<br>- Mr. Thomas Joseph Lim Kim Guan (Lin Qinyuan) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု<br>Wilmar Investment Holdings Pte.,Ltd. (စင်္ကာပူနိုင်ငံ) ၈၀%<br>Value Foodstuff Trading Company Limited (မြန်မာနိုင်ငံ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဧရိယာ၊ မြေကွက်အမှတ် ၂၀၊ ၂၁နှင့် ၂၁နှင့်ကပ်လျက်မြေကွက်လပ် |
| ၃။ | မြေပိုင်ရှင် | - Wilmar Myanmar Port Terminals (Thilawa) Limited |
| | မြေအကျယ်အဝန်း | - ဧရိယာ ၁၀၀.၁၃၀၈ဧကအနက် ဧရိယာ ၇.၄၁၃၁၆၁၄ ဧက (၃၀,၀၀၀ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၁၅၀,၀၀၀<br>- (တစ်နှစ်တစ်စတုရန်းမီတာ=အမေရိကန်ဒေါ်လာ၅ဒေါ်လာ) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၂၅လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - US$ ၃၁.၄၉၅ သန်း |

US$ သန်း

| | မြန်မာ | နိုင်ငံခြား | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၁.၈၉ | ၇.၅၆ | ၂၂.၀၄၅ | ၃၁.၄၉၅ |

<table>
<tr><td>၇။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ</td><td>- ၁၄၅ ဦး<br>- ၁၃၈ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၂၅၀,၀၀၀ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ကျပ်၃,၀၀၀,၀၀၀ ဖြစ်ပါ သည်။)<br>- ၇ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၅,၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်၈,၄၅၀,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၈။</td><td>ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်</td><td>- ပြည်တွင်း ၁၀၀%
<table>
<tr><th>စဉ်</th><th>ပစ္စည်း အမျိုးအစား</th><th>အရေအတွက် (MT)</th><th>ရောင်းချမည့် ဈေးနှုန်း (MT/ကျပ်)</th></tr>
<tr><td>(က)</td><td>Flour (For Brakery)</td><td>၂၄၂၅၅</td><td>၇၆၃,၉၃၅.၇၄</td></tr>
<tr><td>(ခ)</td><td>Flour (For Noodle)</td><td>၃၄၆၅၀</td><td>၅၅၄,၅၁၅.၀၂</td></tr>
<tr><td>(ဂ)</td><td>Flour(For General Purpose)</td><td>၅၆၅၉၅</td><td>၆၉၂,၈၃၄.၉၉</td></tr>
<tr><td>(ဃ)</td><td>By Product(Pollard)</td><td>၃၄၅၀၀</td><td>၁၄၄,၄၉၅</td></tr>
</table></td></tr>
<tr><td>၉။</td><td>ကုမ္ပဏီ၏ဝင်ငွေ<br>(ဆင္ဒမနှစ်မြောက်)<br>ကုမ္ပဏီ၏ အသုံးစရိတ်<br>ကုမ္ပဏီ၏ အသားတင်အမြတ်<br>(ဆင္ဒမနှစ်မြောက်)<br>CSR ၁ %</td><td>- US$ ၆၃.၀၃ သန်း<br><br>- US$ ၅၉.၆၆ သန်း<br>- US$ ၃.၃၇ သန်း<br><br>- US$ ၀.၀၁၉ သန်း</td></tr>
<tr><td>၁၀။</td><td>နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုး<br>အမြတ်ပြန်ပေါ်နှုန်း (IRR)</td><td><br>- US$ ၀.၆၂၆ သန်း<br>- ၁၁ နှစ် ၉လ<br>- ၁၀.၅၅ %</td></tr>
<tr><td>၁၁။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(နှစ်စဉ်)</td><td>- ၈,၀၈၅,၀၀၀ kW</td></tr>
<tr><td>၁၂။</td><td>အခြားတင်ပြချက်</td><td>- Wilmar Myanmar Flour Mills နှင့် Wilmar Myanmar Port Terminals (Thilawa) တို့ချုပ်ဆိုမည့်Sub-Lease Agreement(မူကြမ်း)အား တင်ပြထား ပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Value Foodstuff Trading Company Limited အမည်ဖြင့် ရောဝတီဘဏ်တွင် ၂၀-၇-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၁၀ သန်းရှိကြောင်း တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၁၃။ | စိစစ်တင်ပြချက် | - Wilmar Investment Holdings Pte.,Ltd အနေဖြင့် DBS Bank မှထောက်ခံစာအားတင်ပြထားပါသည်။<br>- Wilmar International Limited နှင့် Value Foodstuff Trading Company Limited ၏ ၂၀၁၄-၂၀၁၅ ခုနှစ် Financial Report အားတင်ပြထားပါသည်။<br>- Wilmar Myanmar Flour Mills Limited၏ ဒါရိုက်တာစာရင်း၊ MOAနှင့်AOAတို့ကိုလည်း တင်ပြထားပါသည်။<br>- Wilmar Myanmar Flour Mills Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်းတို့အား တင်ပြထားပါသည်။<br>- Wilmar Investment Holdings Pte.,Ltd. နှင့် Value Foodstuff Trading Company Limitedတို့ ချုပ်ဆိုမည့် Shareholders' Agreement (မူကြမ်း) အားတင်ပြထားပါသည်။<br>- အမေရိကန်ဒေါ်လာ ၂၂.၀၄၅ သန်းအား ပြည်တွင်းရှိဘဏ်မှ ချေးယူမည်ဖြစ်ပြီး ချေးငွေချေးယူမည့် အစီအစဉ်နှင့် အတူ တင်ပြ ထားပါသည်။<br>- မြေအထောက်အထားနှင့် ပတ်သက်၍ သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြမြေပုံနှင့် ရန်ကုန်တိုင်းအေးချမ်းသာယာရေးကောင်စီမှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေ ၁၅၀၃.၃၃ ဧကအား လယ်ယာ မြေအား သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးပြုခွင့် အမိန့်စာအားတင် ပြထားပါသည်။<br>- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ Wilmar Myanmar Port Terminals(Thilawa)Limitedသို့ မြေဧရိယာ၁၀၀.၁၃၀၈ဧကအားငှားရမ်းထားခြင်းဖြစ်ပြီး Wilmar Myanmar Port Terminals(Thilawa)Limited မှ Wilmar Myanmar Flour Mills Limitedသို့ မြေဧရိယာ ၁၀၀.၁၃၀၈ ဧက အနက်မှ မြေ ၇.၄၁၃၁၆၁၄ ဧကအား ထပ်ဆင့်ငှားရမ်းခြင်း ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် စက်ပစ္စည်းအတွက် သာမက အဆောက်အဦအတွက်ပါ တင်ပြထားသည်ကို တွေ့ ရှိရပါသည်။<br>- ကုန်ကြမ်းပစ္စည်းများအား ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။ |

ကန့်သတ်

၇

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၆၁ /၂၀၁၇ ( ၂၃၉ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Flour Mills Limitedမှ ဂျုံပဲစွဲညီးများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ Wilmar Investment Holdings Pte.,Ltd.မှ (၈၀%)နှင့် မြန်မာနိုင်ငံမှ Value Foodstuff Trading Company Limitedမှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wilmar Myanmar Flour Mills Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဧရိယာ၊ မြေကွက်အမှတ် ၂၀၊ ၂၁နှင့် ၂၁နှင့်ကပ်လျက်မြေကွက်လပ် အတွင်းရှိမြေ ၁၀၀.၁၃၀၈ဧကအနက် မြေ ၇.၄၁၃၁၆၁၄ ဧက ကို ငှားရမ်း၍ ဂျုံပဲစွဲညီးများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Wilmar Myanmar Port Terminals (Thilawa) Limitedတို့ ချုပ်ဆိုထားသော မြေငှားစာချုပ်၊ Wilmar Myanmar Port Terminals (Thilawa) Limited နှင့် Wilmar Myanmar Flour Mills Limitedတို့ ချုပ်ဆိုမည့် ထပ်ဆင့်မြေငှားရမ်းခြင်း သဘောတူ စာချုပ်(မူကြမ်း)၊ Value Foodstuff Trading Company Limited နှင့် Wilmar Investment Holdings Pte.,Ltd. တို့ချုပ်ဆိုမည့် Shareholders' Agreement(မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြမြေပုံများ၊ အဆောက်အဦ Layout Plan၊ ၊ Wilmar Myanmar Flour Mills Limited ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) တို့ကို တင်ပြထားပါ သည်။

၃။ နှစ်စဉ်မြေငှားရမ်းခမှာ မြေဧရိယာတစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅ ဒေါ်လာ နှုန်းဖြင့် တွက်ချက်ပြီး စုစုပေါင်းစတုရန်းမီတာ ၃၀,၀၀၀ (၇.၄၁၃၁၆၁၄ ဧက)အတွက် နှစ်စဉ် မြေငှား ရမ်းခ (၁) နှစ်လျှင် အမေရိကန်ဒေါ်လာ ၁၅၀,၀၀၀ နှုန်းပေးချေရမည်ဖြစ်ပါသည်။

ကန့်သတ်

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂၅လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃၁.၄၉၅ သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

US$ သန်း

| | ပြည်တွင်း | ပြည်ပ | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၁.၈၉ | ၇.၅၆ | ၂၂.၀၄၅ | ၃၁.၄၉၅ |
| **စုစုပေါင်း** | **၁.၈၉** | **၇.၅၆** | **၂၂.၀၄၅** | **၃၁.၄၉၅** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း(၁၃၈)ဦးနှင့် ပြည်ပဝန်ထမ်း (၇)ဦး စုစုပေါင်း (၁၄၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၅,၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၈,၄၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသောပစ္စည်းများကို ပြည်တွင်းတွင် ၁၀၀%ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့်ရောင်းချမှုဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါ သည်-

| ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (MT/ကျပ်) |
|---|---|---|
| Flour (For Brakery) | ၂၄၂၅၅ | ၇၆၃,၉၃၅.၇၄ |
| Flour (For Noodle) | ၃၄၆၅၀ | ၅၅၄,၅၁၅.၀၂ |
| Flour(For Green Purpose) | ၅၆၅၉၅ | ၆၉၂,၈၃၄.၉၉ |
| By Product(Pollard) | ၃၄၅၀၀ | ၁၄၄,၄၉၅ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US $ (သန်း)

(က) ဝင်ငွေ - ၆၃.၀၃

(ခ) အသုံးစရိတ် - ၅၉.၆၆

(ဂ) အသားတင်အမြတ် - ၃.၃၇

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၀၉ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၁၁ နှစ် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR)မှာ ၁၀.၅၅% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီး ဌာနနှင့် စက်မှုဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘော ထား ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန် ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း များကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက် ပျက်စီး မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာ တွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ ၁%ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း Environmental Impact Assessment)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊ အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင် နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Enviromental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊

လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်သဘောထား ပြန်ကြားထား ပါသည်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင်နှင့် လူမှုဝန်းကျင်ဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (ESIA)အား တင်ပြထားပါ သည်။)** **(နောက်ဆက်တွဲ-ခ)**

(ဂ) **ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာနမှ** ကန့်ကွက်ရန်မရှိ ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်စွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံး မပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ် တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲ ရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင် ရွက်ရန်၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါး ကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်ရယူရန်၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာန၏ ထုတ်ကုန်/သွင်းကုန် မှတ်ပုံတင်လက်မှတ် ရယူရန်၊ အဓိကကုန်ကြမ်း(ဂျုံ)အပါအဝင် ကုန်ကြမ်းပစ္စည်းများ အားလုံးကို ပြည်ပမှ တင်သွင်းနေရခြင်းဖြစ်သဖြင့် ပြည်ပကုန်ကြမ်း မှီခိုမှုကို လျှော့ချနိုင်ရန်နှင့် ပြည်တွင်း ကုန်ကြမ်းများကိုလည်း ရနိုင်သမျှ သုံးစွဲရန်၊ ဂျုံပစ္စည်းများနှင့် ဂျုံဆေးထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ကောင်းမွန်သော ထုတ်လုပ်မှုကျင့်စဉ် နှင့်အညီ ထုတ်လုပ်ရန်၊ Construction Equipmentsများ ပြည်ပမှ Cement (၂၄၀၉)တန်အား ထည့်သွင်းရာတွင် ပြည်တွင်းမှ ထုတ်လုပ်ထွက်ရှိသော ဘိလပ်မြေ များကိုလည်း ဝယ်ယူသုံးစွဲရန်၊ ပြည်ပမှ တင်သွင်း မည့် စက်ပစ္စည်းများစာရင်းတွင် ဂျုံမှုန့်ထုတ်လုပ်သည့် စက်ပစ္စည်းများအပြင် Bread၊ Noodle၊ Cakeနှင့် Donutများ ပြုလုပ်ရန်အတွက် Baking Equipmentsများ ထည့်သွင်းထားသည်ကို တွေ့ရှိရပါ ကြောင်းနှင့် ကုန်ချောထုတ်လုပ်ဖော်ပြထားမှု မပါရှိပါသဖြင့် ရှင်းလင်းတင်ပြရန် ၊ ဖြန့်ဖြူးရောင်းချမည့် အစီအစဉ်(ပြည်တွင်း/ပြည်ပ) ထည့်သွင်းဖော်ပြရန်၊ လိုအပ်ချက် များအား ဖြည့်ဆည်းဆောင်ရွက် သွားမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Value Foodstuff Trading Company Limited အမည်ဖြင့် ရောဝတီဘဏ် တွင် ၂၀-၇-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၁၀ သန်းရှိကြောင်း နှင့် Wilmar Investment Holdings Pte.,Ltd အနေဖြင့် DBS Bank မှထောက်ခံစာနှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသားမှတ်ပုံတင် မိတ္တူများကို တင်ပြထား ပါသည်။

၁၂။ Wilmar Myanmar Flour Mills Limited မှ လုပ်ငန်းသဘော သဘာဝရှင်းလင်းချက်၊ ရေနှင့်လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့်လုပ်ငန်းခွင် အန္တရာယ်ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက်ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ Wilmar Myanmar Flour Mills Limited မှ နှစ်စဉ် အသားတင်အမြတ်ငွေ၏၁%ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၃၁ ရက်နေ့တွင် ကျင်းပသော ၄၀/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၆ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ အရ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုနိုင်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ် ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ Wilmar Myanmar Port Terminals (Thilawa)Limited သို့ မြေဧရိယာ ၁၀၀.၁၃၀၈ဧကအား ငှားရမ်းထားခြင်းဖြစ်ပြီး Wilmar Myanmar Port

Terminals (Thilawa)Limited မှ Wilmar Myanmar Flour Mills Limited သို့ မြေဧရိယာ ၁၀၀.၁၃၀၈ဧကအနက်မှ မြေ ၇.၄၁၃၁၆၁၄ ဧကအား ထပ်ဆင့်ငှားရမ်းခြင်း ဖြစ်ပါသည်။

(ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ အဆိုပါမြေ ၁၀၀.၁၃၀၈ဧကအား ငှားရမ်းခွင့်ပြုရန်အတွက် "မူ" အားဖြင့် သဘောတူခွင့်ပြုပါရန်နှင့် ခွင့်ပြုပါက နားလည်မှုစာချွန်လွှာ လက်မှတ်ရေး ထိုးခွင့်ပြုပါရန် နိုင်ငံတော်သမ္မတဦးစီးရုံးသို့ တင်ပြခဲ့ရာ "လုပ်ငန်းများ အမြန်ဆောင်ရွက်စေရန်"ဟု နိုင်ငံတော်သမ္မတမှ လမ်းညွှန် ခဲ့ပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ရန် နိုင်ငံတော်သမ္မတ ဦးစီးရုံးမှ သဘောထား ပြန်ကြားထားသည့်စာအား တင်ပြထားပါသည်။

(ဃ) ရန်ကုန်တိုင်း အေးချမ်းသာယာရေးကောင်စီမှ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သို့ မြေ ၁၅၀၃.၃၃ ဧကအား လယ်ယာမြေအား သတ်မှတ်သည့်နည်း လမ်းအတိုင်း အသုံးပြုခွင့် အမိန့်စာအားတင် ပြထားပါသည်။

(င) ပြည်တွင်းရှိ ဘဏ်မှ Wilmar Myanmar Flour Mills Limited အနေဖြင့် ချေးငွေ အမေရိကန်ဒေါ်လာ ၂၂.၀၄၅ သန်း ချေးယူမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Flour Mills Limited တည်ထောင်၍ ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Wilmar Myanmar Flour Mills Limited | (၁)Mr.Sun Dehai<br>Managing Director<br>Chinese<br>PP No. G55016533 | Yuzana(1)+(2), 31st Street, Between 77th & 78th, Kinsanamahe Quarter, Chan Aye Thar Zan Township, Mandalay, Myanmar |
| | | (၂) Mr. Kuok Khong Hong (Kuok Khoon Hong)<br>Director<br>S<br>PP No.E6111951C | 56 Neil Road, Singapore 088830 |
| | | (၃) Mr.Thomas Joseph Lim Kim Guan (Lin Qinyuan)<br>Director<br>Singaporean<br>PP No.E4564161K | 56 Neil Road, Singapore 088830 |
| | | (၄) Tee Kar Kway @ Maung Kyay<br>Director<br>Myanmar<br>NRC No.12/La Tha Na(N) 018174 | No.(C-4), Pin Shwe Nyaung Street, Tamwekalay Ward, Tamwe Township, Yangon, Myanamr |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၂၇၅၉၉၀

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်. C-၄၊ ပင်ရွှေညောင်လမ်း၊ တာမွေကလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးမောင်ကျေး ဒါရိုက်တာ

| | | | |
|---|---|---|---|
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

MIC 1

နောက်ဆက်တွဲ-က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆. ၁၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၆၁/၂၀၁၆(၉၄၅)

၁။ စင်္ကာပူနိုင်ငံ Wilmar Investment Holding Pte. Ltd. မှ (၈၀%)နှင့် မြန်မာနိုင်ငံမှ Value Foodstuff Trading Company Limited မှ (၂၀%)အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wilmar Myanmar Flour Mills Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါ ဆိပ်ကမ်းဧရိယာ၊ မြေကွက်အမှတ်-၂၀၊ ၂၁နှင့် ၂၂နှင့်ကပ်လျက်မြေကွက်လပ်အတွင်းရှိ မြေ(၇. ၄၁၃)ဧကကို ငှားရမ်း၍ ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၉. ၁. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၅)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

[signature]

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သန်လျင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Wilmar Myanmar Flour Mills Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/3.(10)

MIC-1 009 10/1



နောက်ဆက်တွဲ- ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၉ / ၁၇ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Wilmar Myanmar Flour Mills Limited မှ ဂျုံပစ္စည်းများနှင့် ဂျုံဆေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၆၀/ ၂၀၁၆ (၉၄၄)

၁။ စင်္ကာပူနိုင်ငံရှိ Wilmar Investment Holding Pte., Ltd. မှ (၈၀%) နှင့် မြန်မာနိုင်ငံမှ Value Foodstuff Trading Company Limited မှ (၂၀%) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Wilmar Myanmar Flour Mills Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဧရိယာ၊ မြေကွက်အမှတ် ၂၀၊ ၂၁ နှင့် ၂၁ နှင့် ကပ်လျက် မြေကွက်လက်အတွင်းရှိ မြေဧရိယာ ၇.၁၁၃ ဧက (၂၈၉၉၉.၃၄၇ စတုရန်းမီတာ) ကို ငှားရမ်း၍ ဂျုံပစ္စည်းများနှင့် ဂျုံဆေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၂၅) လ ဖြစ်ကြောင်း၊

(ခ) လုပ်ငန်းခွင် သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံး ပြုသွားမည်ဖြစ်ကြောင်း၊

(င) စွန့်ပစ်ပစ္စည်းများဖြစ်သည့် ဆီ၊ ပလတ်စတစ်၊ ရာဘာ၊ စက္ကူ၊ ကတ်ထူဘူးများ၊ သံ/သံမဏိ အမှုန်များနှင့် အရည်သွေးမမီသော အစေ့များအား ပြန်လည်အသုံးပြုနိုင်ရေး စီမံဆောင်ရွက်သွားမည်ဖြစ်ပြီး ပြန်လည်အသုံးပြုနိုင်ခြင်းမရှိသည့် စွန့်ပစ်ပစ္စည်းများကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဆက်သွယ်၍ စနစ်တကျစွန့်ပစ်ရေး ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) ဓါတုဗေဒပစ္စည်းများနှင့် စပ်လျဉ်း၍ ဘေးအန္တရာယ်ဖြစ်စေမည့် ဓါတုဗေဒပစ္စည်းများ သိုလှောင်ထားခြင်းမရှိသော်လည်း ဂျုံ၏အရသာတက်စေသည့် ဖြည့်စွက်သည့် ဓါတုပစ္စည်းများ (စားသုံးနိုင်သောအစာအစာတို့၏ ဗီတာမင်အင်ဇိုင်းနှင့်ဓါတ်သတ္တုများ) ကို စနစ်တကျ သိုလှောင်ထားရှိမည်ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ စီမံကိန်းလုပ်ငန်းကြီး (၁) ခုလုံးအတွက် ကနဦးပြုလုပ်ထားသည့် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) ကို MIC ခွင့်ပြုချက်ရရှိရေးအတွက် တစ်ပါတည်း တင်ပြလျှောက်ထားကြောင်း ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ထွက်ရှိလာမည့် အမှုန်အမွှားများကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်လာနိုင်ခြင်း၊

(ခ) အသုံးပြုမည့်စက်များ၏ ဆူညံသံကြောင့်အသံညစ်ညမ်း မှုဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းမှထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ ရေဆိုးများနှင့် စွန့်ပစ်ပစ္စည်း အကြွင်းအကျန်များကြောင့် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Wilmar Myanmar Flour Mills Limited မှ ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁%) ကို အသုံးပြုခြင်း အပါအဝင်ဆောင် ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်း ဆောင်ရွက်မည့် နေရာ ဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘော ထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



နောက်ဆက်တွဲ- ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန
## ဝန်ကြီးရုံး



စာအမှတ်၊ ဓမခ(က)၂၀၁၇/ ၁၁၉၉

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ(၁၈)ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆-၁၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက -၂/န-၁၆၁/၂၀၁၆(၉၄၇)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ စင်္ကာပူနိုင်ငံ Wilmar Investment Holding Pte.,Ltd မှ (၈၀%)နှင့် မြန်မာနိုင်ငံမှ Value Foodstuff Trading Company Limited မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wilmar Myanmar Flour Mills Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဇရိယာ၊ မြေ(၇.၄၁၃)ဧကကို ငှားရမ်း၍ ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနအနေဖြင့် စိစစ်ချက်အရ အစားအသောက်ကုန်ကြမ်းပစ္စည်းအဆင့်အထိ ထုတ်လုပ်မည့်ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းဖြစ်၍ ခွင့်ပြုသင့်ပါကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

MIC 1 081 / 18/1



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၆၆၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၁၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂ / န-၁၆၁ / ၂၀၁၆ (၉၄၆)

၁။ Wilmar Myanmar Flour Mills Limied မှ ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဧရိယာ၊ မြေကွက်အမှတ်(၂၀၊ ၂၁)နှင့်ကပ်လျက်မြေကွက်လပ်တွင် ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ဂျုံပစ္စည်းများနှင့် ဂျုံ ဘေးထွက်ပစ္စည်းများ ထုတ် လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်လိုအပ်ပါသည်။

(စ) စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာန၏ ထုတ်ကုန်/သွင်းကုန်မှတ်ပုံတင်လက်မှတ် လိုအပ်ပါသည်။

(ဆ) အဓိကကုန်ကြမ်း(ဂျုံ)အပါအဝင် ကုန်ကြမ်းပစ္စည်းများအားလုံးကို ပြည်ပမှ တင်သွင်းနေရခြင်းဖြစ်သဖြင့် ပြည်ပကုန်ကြမ်း မှီခိုမှုကို လျှော့ချနိုင်ရန်နှင့် ပြည်တွင်းကုန်ကြမ်းများကိုလည်း ရနိုင်သမျှ သုံးစွဲရန်လိုအပ်ပါသည်။

(ဇ) ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ကောင်းမွန်သော ထုတ်လုပ်မှုကျင့်စဉ်နှင့်အညီ ထုတ်လုပ်ရန် လိုအပ်ပါသည်။

(ဈ) Construction Equipments များ ပြည်ပမှ Cement (၂၄၀၉)တန် အား ထည့်သွင်းရာတွင် ပြည်တွင်းမှ ထုတ်လုပ်ထွက်ရှိသော ဘိလပ်မြေများကိုလည်း ဝယ်ယူသုံးစွဲသင့်ပါသည်။

(ည) နှစ်အလိုက် ဖော်ပြထားသည့် Production Plan တွင် Flour (for Bakery၊ Noadle၊ General Purpose )ဟု ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(ဋ) ပြည်ပမှ တင်သွင်းမည့်စက်ပစ္စည်းများစာရင်းတွင် ဂျုံမှုန့် ထုတ်လုပ်သည့် စက်ပစ္စည်းများအပြင် Bread ၊ Noadle ၊ Cake နှင့် Donut များပြုလုပ်ရန်အတွက် Baking Quipments များ ထည့်သွင်းထားသည်ကို တွေ့ရှိရပါသည်။ ကုန်ချော ထုတ်လုပ်ဖော်ပြထားမှု မပါရှိသဖြင့် ရှင်းလင်းတင်ပြရန် လိုအပ်ပါသည်။

(ဌ) ဖြန့်ဖြူးရောင်းချမည့် အစီအစဉ် (ပြည်တွင်း/ပြည်ပ)ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Wilmar Myanmar Flour Mills Limied မှ ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- မြန်မာ့ဆေးဝါးလုပ်ငန်း
- ရုံးလက်ခံ